# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ရခိုင်ပြည်နယ်

ရောဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ

စာအမှတ်၊ ရေက/အ-၀၄၆/ဟိုတယ်/၂၀၂၀( ၀၄၉ )
ရက်စွဲ ၊ ၂၀၂၀ ပြည့်နှစ် ဖေဖော်ဝါရီ လ၂၅ ရက်

ရောဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီသို့
တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **Alamanda Annapi Myanmar Co., Ltd.** မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားသားရင်းနှီးမြှုပ်နှံမှုဖြင့် ဟိုတယ်လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီအတည်ပြုလျှောက်ထားလွှာတင်ပြလာခြင်းကိစ္စ

၁။ Alamanda Annapi Myanmar Co., Ltd. မှ ဦးပိုင်အမှတ် (အမ် -၂၉၃)၊ ကုလားချောင်း (ပြင်)ကွင်း ၊ မကျီးဇင်ကျေးရွာ၊ ရွှေသောင်ယံမြို့နယ်ခွဲ၊ ပုသိမ်မြို့နယ် ၊ ပုသိမ်ခရိုင် ၊ ရောဝတီတိုင်းဒေသကြီးရှိမြေ (၄.၄၈) ဧကတွင် ရာခိုင်နှုန်းပြည့် နိုင်ငံခြားသားရင်းနှီးမြှုပ်နှံမှုဖြင့် ဟိုတယ်လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရောဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှု ကော်မတီသို့အတည်ပြုလျှောက်ထားလွှာတင်ပြလာပါသည်။

၂။ လုပ်ငန်းဆောင်ရွက်မည့် မြေနေရာနှင့် စပ်လျဉ်း၍ အဆိုပြုမြေ (၄.၄၈ ဧက) သည် ဟိုတယ်မြေအဖြစ် ခွင့်ပြုထားသော အခြားနည်းအသုံးပြုခွင့် ပုံစံ(၁၅-က) နှင့်ကုမ္ပဏီ မှတ်ပုံတင်လက်မှတ်တို့ကိုပူးတွဲတင်ပြထားပါသည်။

၃။ လုပ်ငန်းသက်တမ်း ကာလမှာ ကနဦး နှစ် ၅၀ ဖြစ်ပြီး သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ဆောင်ရွက်မည်ဖြစ်ပါသည်။ တည်ဆောက်ရေးကာလမှာ ၂ နှစ်ဖြစ်ကြောင်း တင်ပြထားပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုမှာ အမေရိကန်ဒေါ်လာ ၁.၀၆၆ သန်း ဖြစ်၍ အောက်ပါအတိုင်း ထည့်ဝင်မည်ဖြစ်ပါသည်-

| ရင်းနှီးမြှုပ်နှံမှုပမာဏ | US$ (သန်း) | ကျပ်(သန်းပေါင်း) |
|---|---|---|
| Cash | ၀.၀၁၀ | |
| Machine and Equiment | ၀.၀၀၇ | |
| Construction Materials | ၀.၃၁၂ | |
| Vehicles / machinery | ၀.၀၀၃ | |
| Land / Building | ၀.၀၁၀ | |
| Furniture and office equipment | ၀.၀၂၂ | |
| Labour Charge | ၀.၂၇၁ | |
| Miscellaneous Expenses . | ၀.၄၃၁ | |
| စုစုပေါင်း | ၁.၀၆၆ | |

၅။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း ဦးရေ(၂၄)ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာကျပ် ၁၄၉,၀၀၀ ဖြစ်ပြီးအမြင့်ဆုံးလစာမှာ ကျပ် ၆၇၅,၀၀၀ နှင့် ပြည်ပဝန်ထမ်း(၃) ဦးခန့်အပ်ထားမည်ဖြစ်ပြီး ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာကျပ် ၁၉၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၂,၅၅၀,၀၀၀ ဖြစ်ကြောင်း တင်ပြထားပါသည်။

၆။ ကုမ္ပဏီမှ ဟိုတယ် ဝန်ဆောင်မှု အနေဖြင့် အောက်ပါအတိုင်း တင်ပြ ထားပါသည်-

| | | Low Season | | Hight Season | |
|---|---|---|---|---|---|
| | | Public Rate | Travel Tour Rate | Public Rate | Travel Tour Rate |
| Sea view | 4villas 1 honey moon villa | 180 | 144 | 210 | 168 |
| | | 200 | 160 | 230 | 184 |
| Front beach | 4villas 1 honey moon villa | 220 | 176 | 250 | 200 |
| | | 240 | 192 | 270 | 216 |

၇။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့ မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆက်လက်ဆောင်ရွက်သွားရန် သဘောထားမှတ်ချက် ပြန်ကြားထား ပါသည်။

(ခ) ဧရာဝတီတိုင်းဒေသကြီးပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန မှ EMP ရေးဆွဲဆောင်ရွက်ရန်သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။

၈။ ငွေကြေးအထောက်အထား အနေဖြင့် Alamanda Annapi Myanmar Co., Ltd. အမည်ဖြင့် CB bank တွင် ငွေစာရင်း အမှတ် 72FC 2016-2017(NPW) ဖြင့် စာရင်း ဖွင့်လှစ်ထားပါသည်။

၉။ Alamanda Annapi Myanmar Co., Ltd. မှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး အစီအစဉ်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာ ချောင်ချိရေးစီမံဆောင်ရွက်မည့် အစီအစဉ်နှင့် CSR အတွက် နှစ်စဉ်အသားတင်အမြတ်၏ ၂ % ကို အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၀။ **စိစစ်တင်ပြချက်**

(က) ဟိုတယ်နှင့် အပန်းဖြေစခန်းများ တည်ဆောက်၍ ဝန်ဆောင်မှုပေးခြင်းလုပ်ငန်းများ (Providing services by construction of hotels and resorts) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာ စာ ၁၃/၂၀၁၇ အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍ စာရင်းတွင် ပါဝင်ပါ သည်။

(ခ) လုပ်ငန်းဆောင်ရွက်မည့် မြေ ၄.၄၈ ဧကသည် လယ်ယာမြေ အခြားနည်း အသုံးပြုခွင့် ပုံစံ (၁၅-က) ဟိုတယ်မြေအဖြစ် ရရှိထားပြီး ဖြစ်ပါသည်။

(ဂ) သက်ဆိုင်ရာဌာန အဖွဲ့အစည်းများ၏ လုပ်ငန်း ဆောင်ရွက်ခွင့်၊ လိုင်စင်၊ ခွင့်ပြုပါ ရရှိပြီးဖြစ်ပါက တင်ပြပေးရန် လိုအပ်ပါသည်။

(ဃ) ပြည်ပမှလုပ်ငန်းသုံးပစ္စည်းတင်သွင်းခြင်းမရှိပါ။

**ဆုံးဖြတ်ရန်အချက်**

၁၁။ Alamanda Annapi MyanmarCo., Ltd. မှ ဦးပိုင်အမှတ် (အမ် -၂၉၃)၊ ကုလားချောင်း (ပြင်)ကွင်း ၊ မကျီးဇင်ကျေးရွာ၊ ရွှေသောင်ယံမြို့နယ်ခွဲ၊ ပုသိမ်မြို့နယ် ၊ ပုသိမ်ခရိုင် ၊ ဧရာဝတီတိုင်းဒေသကြီးရှိမြေ (၄.၄၈) ဧကတွင် ရာခိုင်နှုန်းပြည့် နိုင်ငံခြားသားရင်းနှီးမြှုပ်နှံမှုဖြင့် ဟိုတယ်လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)

(သက်ပိုင်၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ